ကုမ္ပဏီအမည် - Lluvia Limited
လုပ်ငန်း - အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂-၂-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန<br>(ခ) ကျန်းမာရေးဝန်ကြီးဌာန<br>(ဂ) စက်မှုဝန်ကြီးဌာန<br>(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန<br>(င) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br>၆-၂-၂၀၁၅<br><br>၁၁-၂-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၁၁-၂-၂၀၁၅<br><br>၁၁-၂-၂၀၁၅ | <br>၂၀-၂-၂၀၁၅<br><br>၂၅-၂-၂၀၁၅<br>၂၆-၂-၂၀၁၅<br>၂၆-၂-၂၀၁၅<br><br>၁၈-၃-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၆/၂၀၁၅) သို့ တင်ပြခြင်း | ၉-၂-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၈-၂-၂၀၁၅ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၃/၂၀၁၅) သို့ တင်ပြခြင်း<br>(ခ) စီးပွားရေးရာကော်မတီ အစည်း အဝေးသို့တင်ပြရန်ဆောင်ရွက်ဆဲ ဖြစ်ပါသည်။<br>(ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြ ရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၁)စုံ လက်ခံရရှိ | ၁၈-၃-၂၀၁၅ | | |
| ၇ | စုစုပေါင်း ကြာမြင့်ရက် | ( ၄၅ ) ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - **Lluvia Limited** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၁၀၈(A) နှင့် ၁၀၈(B)၊ မြေတိုင်းရပ်ကွက် အမှတ်အပိုင်း(၃)၊ ဆိပ်ကမ်းသာလမ်း၊ လှိုင်သာယာစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၉.၆၈၇)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၈.၆၁ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - ၁၁ နှစ် |
| IRR | - ၁၅.၅၆% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅၁၆.၆၃ | - |
| ၄ | ဝင်ငွေခွန် | ၁၀.၀၈ | ၂၁၅.၀၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၅.၅၁ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၂.၇၁ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၀.၇၂ |

| | | | |
|---|---|---|---|
| ၉ | မြေနှင့်အဆောက်အဦ ငှားရမ်းခ | | ၃၇၆၃.၃၈ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း<br><br>စုစုပေါင်း | <br><br>၅၂၈.၃၉ | ပြည်တွင်းဝန်ထမ်း၁၂၅၃ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။<br>၄၀၃၈.၅၄ |
| ၁၁ | Cost : Benefit | ၁ : ၇ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် နှင့် ကွေကာများ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - **Lluvia Limited** |
| | ကမကထပြုသူ | - ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Diamond Star Company Limited (Myanmar) ၈၅%<br>- MC Food Holdings Asia Pte Ltd (Japan) ၁၅% |
| | လုပ်ငန်းအမျိုးအစား | - အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း(၃)၊ မြေကွက်အမှတ် ၁၀၈(A) နှင့် ၁၀၈(B) |
| | မြေပိုင်ရှင် | - Green Land Food Industries Ltd. |
| | မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း(၃)၊ မြေကွက်အမှတ် ၁၀၈(A) နှင့် ၁၀၈(B)ရှိ စုစုပေါင်းမြေဧရိယာ(၉.၆၈၇)ဧက (၃.၀၆၀ + ၆.၆၂၇) ဧက (၃၉၂၀၁.၉၃ စတုရန်းမီတာ) |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD ၉၄၀၈၄၆ (တစ်စတုရန်းမီတာလျှင်US$ ၂၄.၀၀ နှုန်း) |
| | မြေငှားရမ်းကာလ | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |

| | | |
|---|---|---|
| ၄။ | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၁၈.၆၁ သန်း |

US $ (သန်း)

| | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
|---|---|---|---|
| ငွေသား (Loan) | ၂.၇၉ | - | ၂.၇၉ |
| ငွေသား | | ၂.၉၇ | ၂.၉၇ |
| စက်ပစ္စည်းများ (Loan) | - | ၅.၁၇ | ၅.၁၇ |
| အဆောက်အဦ (Loan) | - | ၃.၀၅ | ၃.၀၅ |
| ပရိဘောဂ | - | ၀.၃၉ | ၀.၃၉ |
| ကုန်ကြမ်း | - | ၂.၂၅ | ၂.၂၅ |
| အခြား (Loan) | - | ၁.၉၉ | ၁.၉၉ |
| **စုစုပေါင်း** | **၂.၇၉** | **၁၅.၈၂** | **၁၈.၆၁** |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်း လိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - **၁၂၅၆ ဦး** |
| | ပြည်တွင်း | - ၁၂၅၃ ဦး |
| | ပြည်ပ | - ၃ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၇၀% နှင့် ပြည်ပ ၃၀% |

၉။ ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) - US $ ၂၈၉.၂၂ သန်း

အသုံးစရိတ် - US $ ၂၇၄.၇၁ သန်း

အသားတင်အမြတ် - US $ ၁၄.၅၁ သန်း

၁၀။ နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် )

ဝင်ငွေခွန် - US $ ၈.၁၆ သန်း

ကုန်သွယ်လုပ်ငန်းခွန် - US $ ၉.၉၇ သန်း

အရင်းကြေကာလ - ၁၁ နှစ်

အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) - ၁၅.၅၆%

၁၁။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) - ၂,၅၇၇,၉၈၄ Unit

၁၂။ နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်)

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Packet) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| Coffee | ၆၉၉၅၇၇၀၁ | ၂၉၉၈၁၈၇၂ | ၂၀၃၀ | ၂.၁၀ |
| Pure Coffee | ၁၅၄၆၆၂၀ | ၆၆၂၈၃၇ | ၇၂၀ | ၁.၅၀ |
| Tea | ၆၉၆၃၉၈၃ | ၂၉၈၄၅၆၄ | ၂၃၀၀ | ၂.၅၀ |
| Milk Powder | ၁၅၉၈၃၈၄၀ | ၆၈၅၀၂၁၇ | ၁၈၃၀ | ၁.၉၀ |
| Cereal | ၇၅၉၃၈၄၀ | ၃၂၅၄၅၀၃ | ၁၄၂၀ | ၁.၆၀ |
| Creamer | ၂၀၁၂၃၀ | ၈၆၂၄၁ | ၁၅၀၀ | ၁.၂၀ |

၁၃။ စိစစ်တွေ့ရှိချက် - ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲဖြင့် Lluvia Limited မှ Joint Venture အဖြစ်သို့ ပြောင်းလဲပြီး၊ အဆိုပြုတင်ပြ ထားသော Beverage နှင့် Logistic Business များအတွက် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု

| | | |
|---|---|---|
| | | ဥပဒေအရ ခွင့်ပြုမိန့် ရရှိရေးအတွက် သီးခြားစီ အဆိုပြုချက် တင်ပြရန် အကြောင်းကြားသည့်စာအား တင်ပြထားပါသည်။<br>- ဖက်စပ်ကုမ္ပဏီ (၂)ခုဖြစ်သော Diamond Star Company Limited နှင့် MC Food Holdings Asia Pte Ltd Mitsubishi Corporation တို့သည် ချေးငွေရယူမည် ဖြစ်ပါသည်။ အတိုးနှုန်း ၅% ဖြစ်ပြီး စတင်ယူဆောင်လာသည့် နေ့ရက်မှ ၅ နှစ်ပြည့်ပြီး နောက် ပြန်လည် ပေးချေမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- အဆိုပြုလုပ်ငန်းတွင် ကုန်အမှတ်တံဆိပ် (Premier Pure Coffee 2 Plus 1 ၊ Tea Master 3 in 1 Instant Teamix ၊ All Time Instant Cereal Drink ၊ Happy 3 In 1 Instant Creamy Coffee နှင့် Premier Full Cream Milk Powder) အမည်အမှတ်အသားကို မိမိတို့ ကုမ္ပဏီတစ်ခုတည်းမှ မူပိုင်အဖြစ်ပြုလုပ်သုံးစွဲနိုင်ရန်အတွက်မှတ်ပုံတင်သွင်း ခြင်း စာချုပ်များကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၂/ န-၁၁၆ /၂၀၁၅ ( ၂၁၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မတ်လ ၁၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Diamond Star Company Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte Limited မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း(၃)၊ မြေကွက်အမှတ် ၁၀၈(A) နှင့် ၁၀၈(B) ရှိ မြေဧရိယာ (၉.၆၈၇)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Green Land Food Industries Ltd နှင့် Lluvia Limited တို့ကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံ မှ Diamond Star Company Limited နှင့် ဂျပန်နိုင်ငံ မှ MC Food Holdings Asia Pte Limited တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement နှင့် Shareholders Agreement ၊ Lluvia Limited ၊ MC Food Holdings Asia Pte Limited၊ Diamond Star Company Limited နှင့် Mitsubishi Corporation တို့အကြား ချုပ်ဆိုမည့် Credit Line Agreement နှင့် Shareholders' Loan Agreement ၊ မြေအထောက်အထားများ နှင့် အဆောက်အဦဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုမြို့ရှိ မြေနှင့်အဆောက်အဦ ငှားရမ်း၍ မြေဧရိယာ (၉.၆၈၇)ဧက (၃၉၂၀၁.၉၃ စတုရန်းမီတာ)အား တစ်စတုရန်း မီတာလျှင် US$ ၂၄.၀၀ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခ USD ၉၄၀၈၄၆ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၆ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (၁၅%) (US$ သန်း) | ပြည်တွင်း(၈၅%) (US$ သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား(Loan) | ၂.၇၉ | - | ၂.၇၉ |
| ငွေသား | - | ၂.၉၇ | ၂.၉၇ |
| စက်ပစ္စည်းများ (Loan) | - | ၅.၁၇ | ၅.၁၇ |
| အဆောက်အဦ(Loan) | - | ၃.၀၅ | ၃.၀၅ |
| ပရိဘောဂ | - | ၀.၃၉ | ၀.၃၉ |
| ကုန်ကြမ်း | - | ၂.၂၅ | ၂.၂၅ |
| အခြား(Loan) | - | ၁.၉၉ | ၁.၉၉ |
| **စုစုပေါင်း** | **၂.၇၉** | **၁၅.၈၂** | **၁၈.၆၁** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ်ရာတွင် ပြည်တွင်း ဝန်ထမ်း(၁၂၅၃)ဦး နှင့် ပြည်ပ (၃) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများကို ပြည်တွင်းတွင် ၇၀% နှင့် ပြည်ပသို့ ၃၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်း မှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Packet) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| Coffee | ၆၉၉၅၇၇၀၁ | ၂၉၉၈၁၈၇၂ | ၂၀၃၀ | ၂.၁၀ |
| Pure Coffee | ၁၅၄၆၆၂၀ | ၆၆၂၈၃၇ | ၇၂၀ | ၁.၅၀ |
| Tea | ၆၉၆၃၉၈၃ | ၂၉၈၄၅၆၄ | ၂၃၀၀ | ၂.၅၀ |
| Milk Powder | ၁၅၉၈၃၈၄၀ | ၆၈၅၀၂၁၇ | ၁၈၃၀ | ၁.၉၀ |
| Cereal | ၇၅၉၃၈၄၀ | ၃၂၅၄၅၀၃ | ၁၄၂၀ | ၁.၆၀ |
| Creamer | ၂၀၁၂၃၀ | ၈၆၂၄၁ | ၁၅၀၀ | ၁.၂၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂၈၉.၂၂ |
| (ခ) | အသုံးစရိတ် | - | ၂၇၄.၇၁ |
| (ဂ) | အသားတင်အမြတ် | - | ၁၄.၅၁ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၈.၁၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၁ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၅.၅၆% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်း လုပ်သားအင်အား (၁၂၅၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ

ဖြစ်စေပါကြောင်း၊ လုပ်ငန်းလုပ်ကိုင်ရန် လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက်အမှတ်-၁၀၈(A) နှင့် ၁၀၈ (B)ရှိ စက်များတပ်ဆင်ထုတ်လုပ်နေသည့် လုပ်ငန်းကို တိုးချဲ့၍ ဆောင်ရွက်သွားမည့် မြေဧရိယာ ၉.၆၈၇ ဧက (၃၉,၂၀၂ စတုရန်းမီတာ)အား တစ်နှစ်လျှင် 1 sq meter အတွက် USD 24 နှုန်း၊ စုစုပေါင်း (၁)နှစ်လျှင် (USD 940,846)နှုန်းဖြင့် (၄၅)နှစ် ငှားရမ်း လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါကြောင်း၊ Lluvia Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) တည်ဆောက်ရေး ကာလအတွင်း ထွက်ရှိလာမည့် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများနှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ် ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ၊ ပြန်လည် သုံးစွဲမည့် စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(၂) တစ်ရက်လျှင်ရေ (၄၉၈၅၂)ဂါလန်ခန့် သုံးစွဲမည်ဖြစ်ပြီး ဝန်ထမ်းဦးရေ (၁၂၅၆)ဦး ခန့်ထားမည်ဖြစ်သဖြင့် ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည် သန့်စင်စနစ်ထားရှိရန် နှင့် စွန့်ပစ်အရည်/ ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(၃) ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ (Initial Environmental Examination- IEE) ဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက် ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၅) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံ ပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်၊ **(နောက်ဆက်တွဲ-ခ)**

[ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ သဘောထားမှတ်ချက်အရ ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ (Initial Environmental Examination- IEE) ဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) များကို EQM Environmental Quality Management Co., Ltd သို့ အပ်နှံကာ လုပ်ကိုင်ဆောင်ရွက်နေပြီးဖြစ်ပါကြောင်း တင်ပြထားပါသည်။]

(ဂ) **ကျန်းမာရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ -ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုဆောင်ရွက်မည့် လုပ်ငန်းများနှင့် ပတ်သက်၍ အောက်ပါ အချက်များ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၂) ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၃) ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ကော်ဖီအား ပြည်တွင်း၌ စိုက်ပျိုးထုတ်လုပ်ရန် လိုအပ်ပြီး စိုက်ပျိုးနည်းပညာနှင့် မျိုးကောင်းမျိုးသန့်များ ရရှိရန် ဆောင်ရွက်သင့်ပါကြောင်း၊

(၄) ကုန်ကြမ်းပစ္စည်းစာရင်းတွင် Flavour ထည့်သွင်းဖော်ပြထားရာ Food Grade ဖြစ်ရန်လိုအပ်ပြီး ပြည်တွင်းမှ ဝယ်ယူရရှိနိုင်သည့် ကုန်ကြမ်းများအား ပြည်တွင်း မှ ဝယ်ယူရန် လိုအပ်ပါကြောင်း၊

(၅) နှစ်အလိုက် ကုန်ကြမ်းသုံးစွဲမှုအား မက်ထရစ်တန်ဖြင့် တင်ပြထားပြီး ကုန်ချော ထုတ်လုပ်မှုတွင် Packet ဟုသာ တင်ပြထားသဖြင့် အလေးချိန် ထည့်သွင်း တင်ပြရန် လိုအပ်ပါကြောင်း၊ သို့မှသာ ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု ကိုက်ညီခြင်း ရှိ/မရှိ စိစစ်နိုင်မည်ဖြစ်ပါကြောင်း၊

(၆) စက်ပစ္စည်းစာရင်းတွင် မည်သည့်စက်ပစ္စည်းများဖြစ်သည်ကို တင်ပြရန် လိုအပ် ပြီး အဓိက စက်ပစ္စည်းများအား Capacity နှင့်တကွ တင်ပြရန် လိုအပ်ပါကြောင်း၊ သို့မှသာထုတ်လုပ်မှုနှင့် စက်အင်အား /လူအင်အား ကိုက်ညီမှု ရှိ/မရှိ စိစစ်နိုင်မည်ဖြစ်ပါကြောင်း၊

(၇) Lluvia Limited မှ အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲ ဥပဒေ လုပ်ထုံးလုပ်နည်းများ နှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိပါ ကြောင်း၊ **(နောက်ဆက်တွဲ-ဃ)**

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း နှင့် လိုအပ်ချက်များကို ပြင်ဆင် တင်ပြ ထားပါသည်။]**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဂျပန်နိုင်ငံမှ Mitsubishi Corporation အမည်ဖြင့် The Bank of Tokyo-Mitsubishi UF J, Ltd. တွင် ၁၃-၁-၂၀၁၅ ရက်စွဲဖြင့် ဂျပန်ယန်း ၆၉၇၉၈.၈၄ သန်း နှင့် မြန်မာနိုင်ငံမှ Lluvia Limited အမည်ဖြင့် Myanmar Citizens Bank Ltd တွင် (၂-၂-၂၀၁၅) ရက်စွဲဖြင့် ကျပ် (၁၀၀၀.၁၀)သန်း ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Lluvia Limited မှ တည်နေရာပြမြေပုံ၊ ရေနှင့်လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်း သာယာရေးစီမံချက်အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ (၉-၂-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်စွဲဖြင့် Lluvia Limited မှ Joint Venture အဖြစ်သို့ ပြောင်းလဲပြီး၊ အဆိုပြုတင်ပြ ထားသော Beverage နှင့် Logistic Business များအတွက် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် ရရှိရေးအတွက် သီးခြားစီ အဆိုပြုချက် တင်ပြရန် အကြောင်းကြားသည့်စာအား တင်ပြထားပါသည်။

(ခ) ဖက်စပ်ကုမ္ပဏီ (၂)ခုဖြစ်သော Diamond Star Company Limited နှင့် MC Food Holdings Asia Pte Ltd Mitsubishi Corporation တို့သည် ချေးငွေရယူမည် ဖြစ်ပါသည်။ အတိုးနှုန်း ၅% ဖြစ်ပြီး စတင်ယူဆောင်လာသည့်နေ့ရက်မှ ၅ နှစ်ပြည့်ပြီးနောက် ပြန်လည်ပေးချေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းတွင် ကုန်အမှတ်တံဆိပ် (Premier Pure Coffee 2 Plus 1 ၊ Tea Master 3 in 1 Instant Teamix ၊ All Time Instant Cereal Drink ၊ Happy 3 In 1 Instant Creamy Coffee နှင့် Premier Full Cream Milk Powder) အမည်အမှတ်အသားကို မိမိတို့ ကုမ္ပဏီတစ်ခုတည်းမှ မူပိုင်အဖြစ် ပြုလုပ်သုံးစွဲနိုင်ရန်အတွက် မှတ်ပုံတင်သွင်းခြင်း စာချုပ်များကို တင်ပြထားပါသည်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာကော်မတီ နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးများသို့ ဆက်လက် တင်ပြထားပါသည်။

(င) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Lluvia Limited တည်ထောင်၍ အသင့်ဖျော်ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Lluvia Limited | **Lluvia Limited**<br>Represented by:<br>(၁) U Ko Ko Gyi @ U Soe Naing<br>Managing Director<br>Myanmar<br>12/Ka Ta Ta (Naing)012243 | No. (34), University Avenue Road, Bahan Township, Yangon. |
| | | (၂) Daw Moe Moe<br>Director<br>Myanmar<br>9/Ma Ya Ma (Naing)026759 | No. (34), University Avenue Road, Bahan Township, Yangon. |
| | | **MC Food Holdings Asia Pte Ltd**<br>Represented by:<br>(၃) Mr.Satoshi Yahagi<br>Director<br>Japanese<br>TK 2936317 | 6-7-41 Miyazaki, Miyamae-KU, Kawasaki, Kanagawa, Japan. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၂၀၀၆၄၉၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၁၂၆(A)၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် မန်းနေဂျင်းဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - အသင့်ဖျော် ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့် နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -


J:\Lluvia Limited (Coffee)\Lluvia- coffee (MIC -Memo).doc

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁. ၂. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ နှ - ၁၁၆ / ၂၀၁၅ (၁၀၆)

၁။ မြန်မာနိုင်ငံ Lluvia Limited မှ (၈၅%)နှင့် ဂျပန်နိုင်ငံ MC Food Holdings Asia Pte Limited မှ (၁၅%) အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက်အမှတ်-၁၀၈ (A)နှင့် မြေကွက်အမှတ်-၁၀၈(B)ရှိ မြေဧရိယာ (၉. ၆၈၇)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကိုငှားရမ်း၍ အသင့်ဖျော်ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ် ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၂၅၃)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုမြို့၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက်အမှတ်-၁၀၈ (A)နှင့် မြေကွက်အမှတ်-၁၀၈(B)ရှိ စက်များတပ်ဆင်ထုတ်လုပ်နေသည့်လုပ်ငန်းကိုတိုးချဲ့၍ဆောင်ရွက်သွားမည့်မြေဧရိယာ ၉. ၆၈၇ ဧက(၃၉,၂၀၂ စတုရန်းမီတာ)အား တစ်နှစ်လျှင် 1 sq metre အတွက် USD 24 နှုန်း၊ စုစုပေါင်း(၁)နှစ်လျှင် (USD 940,846 )နှုန်းဖြင့် (၄၅)နှစ် ငှားရမ်းလုပ်ကိုင်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

DJ/2015/Cabinet/13_(15)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံတင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၂. ၃. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၉)အရ Lluvia Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
√ Lluvia Limited
လက်ခံစာတွဲ
မျှောစာတွဲ

DJ(2015)Cabinet(13_[16])

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(ဖ)/( ၁၇၄၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဖေဖော်ဝါရီလ ၂၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက - ၂/န -၁၁၆/ ၂၀၁၅ (၁၀၇)

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ Lluvia Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte Limited မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ လှိုင်သာယာစက်မှုမြို့ ၊ ဆိပ်ကမ်းသာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း(၃)၊ **မြေကွက်အမှတ် (၁၀၈)(A) နှင့် (၁၀၈)(B)ရှိ မြေဧရိယာ (၉.၆၈၇)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ အသင့်ဖျော်ကော်ဖီ၊** လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက် ၊ စွန့်ပစ်ရေ စီမံခန့်ခွဲမှုအစီအစဉ် ၊ မြေနှင့်မြေအောက်ရေညစ်ညမ်းမှု အခြေအနေ၊ ဓာတုပစ္စည်းကိုင်တွယ်မှု နှင့် သိုလှောင်ထားရှိမှု၊ အခြားစွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၄၅)နှစ် ဖြစ်၍ တည်ဆောက်မှုကာလမှာ (၆)လကြာမြင့်မည်ဖြစ်ကြောင်း၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက် ထားမှုများ ၊ ပြည်ပမှ မှာယူတင်သွင်းမည့် စက်ပစ္စည်းများစာရင်း၊ ပြည်တွင်းမှဝယ်ယူမည့် ကုန်ကြမ်းပစ္စည်းများအနေဖြင့် Inner Roll (၁၃၅,၀၇၇) လိပ်မှ (၅၇၃,၅၃၂) လိပ်၊ Outer Pack (၄၉,၆၂၉,၆၆၈)ထုပ် မှ (၂၁၀,၇၂၅,၀၁၆)ထုပ် နှင့် Cartoon Box (၁,၇၃၂,၃၆၇)ဘူးမှ (၇,၃၅၅,၅၃၉)ဘူး နှစ်အလိုက် တိုးမြှင့်သုံးစွဲမည်ဖြစ်ကြောင်း ၊ ပြည်ပမှ မှာယူတင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများအနေဖြင့် ကော်ဖီစေ့ (၂၃၁) တန်မှ (၉၈၂) တန် ၊ ကော်ဖီမှုန့် (၁,၈၀၇) တန်မှ (၆,၆၁၁) တန် ၊ NDC (၁၁,၂၀၅) တန်မှ (၄၇,၅၇၅) တန် ၊ နို့မှုန့် (၁,၄၉၉)တန်မှ (၆,၃၆၆)တန် ၊ သကြား (၁၂,၅၃၁)တန်မှ (၅၃,၂၀၅) တန် ၊ သွက်ခြောက်မှုန့် (၁၀၁)တန်မှ (၄၂၈)တန် ၊ Cereal (၆၉၀) တန်မှ (၂,၉၃၀)တန် နှင့် Flavour (၃၄)တန်မှ (၁၄၅)တန် နှစ်အလိုက် တိုးမြှင့်သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းအဖြစ် အသုံးပြုမည့် နို့မှုန့်များ၊ ကော်ဖီစေ့/ ကော်ဖီမှုန့်များ၊ သကြားများ နှင့် ဆက်စပ်ပစ္စည်းများအား စနစ်တကျ သန့်ရှင်းစွာ သိုလှောင်ထားရှိမှု မရှိပါက မှိုများ၊ ဘက်တီးရီးယားများနှင့် ပိုးမွှားများဝင်ရောက်နိုင်သဖြင့် စားသုံးသူတို့၏ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်း၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများနှင့် ထုတ်ပိုးရာတွင် အသုံးပြုမည့် Plastic များမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စီမံခန့်ခွဲခြင်းမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ တစ်နှစ်လျှင် ရေ (၁၈,၁၉၆,၁၄၀) ဂါလန်အသုံးပြုမည်ဖြစ်ကြောင်း အဆိုပြုလွှာတွင်ဖော်ပြထားသဖြင့် တစ်ရက်လျှင် ရေ (၄၉,၈၅၂) ဂါလန်ခန့် အသုံးပြုမည်ဖြစ်သဖြင့် စွန့်ပစ်ရေ သန့်စင်စနစ် ထားရှိခြင်း မရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ ဝန်ထမ်းအင်အား ပြည်တွင်းမှ (၁,၂၅၃)ဦး၊ ပြည်ပမှ (၃)ဦး စုစုပေါင်း (၁,၂၅၆)ဦး ခန့်ထားမည်ဖြစ်သဖြင့် အဆိုပါ ဝန်ထမ်းအိမ်ယာများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များအား စနစ်တကျ စွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း စသောပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ၊ Lluvia Limited မှ (၈၅%) နှင့် ဂျပန်နိုင်ငံ MC Food Holidings Asia Pte Limited မှ (၁၅%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Lluvia Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ လှိုင်သာယာစက်မှုမြို့ ၊ ဆိပ်ကမ်းသာလမ်း ၊ **မြေတိုင်းရပ်ကွက်အမှတ်** အပိုင်း(၃) ၊ မြေကွက်အမှတ် (၁၀၈)(A) နှင့် (၁၀၈)(B)ရှိ မြေဧရိယာ (၉.၆၈၇)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ အသင့်ဖျော်ကော်ဖီ၊ လက်ဘက်ရည်၊ နို့မှုန့်နှင့် ကွေကာများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် နှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) တည်ဆောက်ရေးကာလအတွင်း ထွက်ရှိလာမည့် တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ နှင့် လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်း ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအတွက် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအမံများ ၊ ပြန်လည်သုံးစွဲမည့် စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(ခ) တစ်ရက်လျှင် ရေ (၄၉,၈၅၂) ဂါလန်ခန့် သုံးစွဲမည်ဖြစ်ပြီး ဝန်ထမ်းဦးရေ (၁,၂၅၆) ဦး ခန့်ထားမည်ဖြစ်သဖြင့် ထွက်ရှိလာမည့် စွန့်ပစ်ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်အရည် သန့်စင်စနစ် ထားရှိရန် နှင့် စွန့်ပစ်အရည် / ပစ္စည်းစီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ၊ (Initial Environmental Examination- IEE ) ဆောင်ရွက်ရန်၊

(ဃ) အထက်ပါ ဆန်းစစ်တွေ့ရှိချက်များ အပေါ်အခြေခံ၍ လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များစီမံ ခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲပြုစု တင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(စ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

၂၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန